# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၁၀/၂၀၀၂ ( ၂၅၀၈ - ၀ )
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ စက်တင်ဘာလ ၁၀ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ဧရာဝတီ ရေလုပ်ငန်း လီမိတက် ကည်ထောင်၍ ငါး၊ ပုစွန်ပြုပြင် အေးခဲသည့် တန် (၇၅၀)ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့် တိရစ္ဆာန် အစာအဟာတောင့် စက်ရုံ လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဧရာဝတီ ရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.) တည်ထောင်၍ ငါး၊ ပုစွန် ပြုပြင်အေးခဲသည့် တန် (၇၅၀)ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့် တိရစ္ဆာန် အစာအစာတောင့်စက်ရုံလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၃-၈-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၈/၂၀၀၂)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက် ရန် မူအားဖြင့်သဘောတူပြီး၊ ကုန်သွယ်မှုမူဝါဒကောင်စီသို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရ (၅-၉-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂၂/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ တင်ပြရန်နှင့် စက်ပစ္စည်းဝယ်ယူရန် မြန်မာ့ရင်းနှီးမြှုပ်နှံမှု နှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် ထားရှိသော ငွေကို အခြားလုပ်ငန်းများ သုံးခြင်းမျိုးမဖြစ်စေရန် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ကြည့်ရှုထားရန်၊ အမေရိကန်ဒေါ်လာ (၄၉၅,၀၀၀) တန်ဖိုးရှိ စက်ပစ္စည်းများအတွက် L/C ဖွင့် မှာကြားစေရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၄၉၅)သန်းအပါအဝင် စုစုပေါင်း ကျပ် (၄၅၄.၃၀) သန်း ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်ပမှ ဝယ်ယူတင်သွင်းရန်အတွက် ယုဇန ကုမ္ပဏီ လီမိတက်၏ ရေထွက်ပစ္စည်းများ တင်ပို့ ရောင်းချရငွေ Export Earning မှ စုဆောင်းထားသည့် အမေရိကန် ဒေါ်လာ(၅)သိန်းကို မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် Fixed Deposit ပြုလုပ်ထားပါသည်ဟု တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် ပုသိမ်ခရိုင် အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနမှ ကမကထ ပြုသူ ဦးရွှေမြင့် နှင့် ဒါရိုက်တာအဖွဲ့ဝင် ဦးဝင်းမြင့်တို့ အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ဧရာဝတီတိုင်း၊ ပုသိမ်ခရိုင်၊ အမှတ်(၁)ရပ်ကွက်၊ စဉ့်အိုးဘိုမြောက် ရန်ကင်းတောင်လမ်း၊ အကွက်အမှတ် (၄)၊ ဦးပိုင်အမှတ် ၁၊ ၂၊ ၁-ဃ၊ ၆-ခ၊ ၂၉-ဃ နှင့် ၁-ခ ရှိ မြေ (၈.၃၆၁)ဧက (၃၃၈၃၅.၈၀ စတုရန်းမီတာ) ပေါ်တွင် လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ Prawn & Fish (Fillets) ကို ပြည်ပသို့ (၁၀၀) ရာခိုင်နှုန်းနှင့် Fishpallet နှင့် Byproducts ကို ပြည်တွင်းတွင် (၁၀၀) ရာခိုင်နှုန်း ရောင်းချသွားမည် ဖြစ်ပါသည်။ ရေခဲစက်ရုံမှ ထွက်ရှိသော ရေခဲများကို ရောင်းချမည်မဟုတ်ဘဲ လုပ်ငန်းတွင် ပြန်လည်အသုံးပြုရန်အတွက်သာ ထုတ်လုပ်မည်ဖြစ်ပါကြောင်းတင်ပြထားပါသည်။ ပုံမှန်နှစ်ရှိထုတ်လုပ်မှုမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (မက်ထရစ်တန်) |
|---|---|---|
| ၁။ | Fishpallet | ၁၃၂၀၀ |
| ၂။ | By products | ၆၉၀ |
| ၃။ | Prawn | ၈၂၅ |
| ၄။ | Fish (Fillets) | ၃၃၀ |

၅။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၆၅ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၄၈ သန်း

ကျပ် ၁၀၀.၂၆ သန်း

၆။ လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၁၁၉၆)ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ပညာရှင် (၄)ဦးကို ခန့်ထားဆောင်ရွက်မည် ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာနသို့ သဘောထား တောင်းခံရာ တည်ဆောက်မည့် စက်ရုံများတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအစဉ် အရ ဆောင်ရွက်မည့် Waste Water Treatment System အစီအမံများ စနစ်ကျမှုရှိခြင်း၊ ပြည့်စုံညီညွှတ်မှု ရှိခြင်း၊ ရေဆိုး၊ အနံ့ဆိုးများ မထွက်ရှိနိုင်သည့်အတွက် လေထုညစ်ညမ်းမှု မရှိခြင်း တို့ကြောင့် ကန့်ကွက်ရန် မရှိပါကြောင်း၊ ခွင့်ပြုဆောင်ရွက် စေသင့်ပါကြောင်း ပြန်ကြားလာပါသည်။

၈။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့နှင့်ပတ်သက်၍ ဝန်ခံ ကတိများ ပြုထားပါသည်။

၉။ ကုမ္ပဏီမှမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၀။ ဆုံးဖြတ်ရန်အချက်။

(က) ဧရာဝတီရေ လုပ်ငန်း လီမိတက် တည်ထောင်၍ ငါး၊ ပုစွန် ပြုပြင်အေးခဲသည့် တန်(၇၅၀)ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့် ဘိရစ္စာန် အစားအစာတောင့် စက်ရုံလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဦးသောင်း)
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ

## (မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.) |
| ၂။ | လုပ်ငန်း အဆိုပြုသူအမည် | ဦး ဌေး မြင့် |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုး အစား | ငါး ၊ ပုဇွန်ပြုပြင် အေး ခဲသည့်ကန် (၇၅၀) ဆန့် အအေး ခန်း စက်ရုံ၊ ရေခဲစက်နှင့်တိရစ္ဆာန် အစား အစာ တောင့်စက်ရုံလုပ်ငန်း |
| ၄။ | တည်နေရာ | ဦးပိုင်အမှတ် ၁၊ ၂၊ ၁-ဃ. ၆-ခ၊ ၂၉-ဃနှင့် ၁-ခ) အကွက်အမှတ် (၄) ၊ စဉ့်အိုး ဘိုမြောက်ရန်ကင်း တောင်လမ်း ၊ အမှတ် (၁) ရပ်ကွက်၊ ပုသိမ်ခရိုင် ဧရာဝတီတိုင်း ။ |
| ၅။ | စုစု ပေါင်း ရင်း နှီးမြှုပ်နှံမှု | ကျပ် ၄၅၄.၃၀ သန်း (US$ ၀.၄၉၅ သန်းအပါအဝင်) |
| | - ငွေသား | ကျပ် ၃၅.၀၀ သန်း |
| | - အဆောက်အဦ | ကျပ် ၃၇၅.၀၀ သန်း |
| | - ပရိဘောဂ | ကျပ် ၁၆.၃၃ သန်း |
| | - စက်ပစ္စည်း | ကျပ် ၂၇.၉၇ သန်း (US$ ၀.၄၉၅ သန်း အပါအဝင်) |
| ၆။ | မြေအကြောင်း အရာ | |
| | - မြေအကျယ်အဝန်း | ၈.၃၆၁ ဧက (၃၃၈၃၅.၈၀ စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | ပုသိမ်မြို့၊ ပုသိမ်ခရိုင်အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာနမှ ကမကထပြုသူ ဦး ဌေး မြင့်နှင့် ဒါရိုက်တာအဖွဲ့ဝင် ဦး ဝင်း မြင့်တို့အမည်ဖြင့် အသုံး ပြုခွင့်ရရှိထား သော မြေ၊ |
| | - မြေအမျိုး အစား | ဂရမ် မြေ |
| ၇။ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | မက်ထရစ်တန် |
| | - Fishpellet | ၁၃၂၀၀ |
| | - Prawn | ၈၂၅ |
| | - Fish(Fillets) | ၃၃၀ |
| | - By Products | ၉၉၀ |

- ရေခဲစက်ရုံမှထွက်သော ရေခဲများကိုရောင်း ချမည်မဟုတ်ဘဲလုပ်ငန်း တွင်ပြန်လည်အသုံး ပြုရန်အတွက်သာထုတ်လုပ် မည်ဖြစ်ပါကြောင်းတင် ပြထား ပါသည်။
- <u>ကတိဝန်ခံချက်များ</u> ( အောက်ပါအတိုင်း ပေး ထား ပါသည်။ )
- ယင်း လုပ်ငန်း သည်မြန်မာနိုင်ငံသား များ သာလျှင်ပိုင်ဆိုင်ပြီး ၊ နိုင်ငံခြား မှ မည်သူမျှ ပိုင်ဆိုင်မှုမရှိ ကြောင်း ၊
- မြေယာနှင့်ပတ်သက်၍ နိုင်ငံ တော်မှသတ်မှတ် ပြဋ္ဌာန်း မည့်စည်း ကမ်းသတ်မှတ်ချက် များကို လိုက်နာမည်ဖြစ် ကြောင်း ၊
- ပတ်ဝန်း ကျင်ညစ်ညမ်း မှုနှင့်မီး ဘေး အန္တရာယ်များ မဖြစ်ပွား စေရန်လိုအပ် သောအစီအမံ များ ကြိုတင်ကာကွယ်မှုများပြု လုပ်ထား မည်ဖြစ် ကြောင်း ၊
- လုပ်ငန်း အသစ်နှင့်စက်ပစ္စည်း အသစ်ဖြစ် ကြောင်း ၊
- ပြည်ပသို့တင်ပို့ရောင်း ချရန် ဈေး ကွက်ရှိပြီး ဖြစ် ကြောင်း ၊
- ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ မှတ်ပုံတင် ထား ရှိမည်ဖြစ် ကြောင်း ၊
- ဧရာဝတီတိုင်း အေး ချမ်း သာယာရေးနှင့် ဖွံ့ဖြိုး ရေး ကောင်စီမှအအေး ခန်း စက်ရုံ ရေခဲစက်ရုံတည် ဆောက်၍ ငါး ၊ ပုဇွန်ပြုပြင် ထုတ်လုပ်ခြင်း ၊ အစာ ကောင့်လုပ်ငန်း လုပ် ကိုင်ခြင်း နှင့်စပ်လျဉ်း ၍ ဥပဒေနှင့်အညီခွင့်

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိမည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်း အတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း တင်သွင်းလာသည့် စက်ပစ္စည်းများ အပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့် ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့် ပြုသင့်ပါသည်။



* ကျော် ၂၂၀၂ ထ၁။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၁၀/ ၂၀၀၂ (၂၃၂၈-၁)
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဩဂုတ်လ ၂၆ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ဧရာဝတီ ရေလုပ်ငန်း လီမိတက် တည်ထောင်၍ ငါး၊ ပုစွန်ပြုပြင် အေးခဲသည့် တန် (၇၅၀)ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့် တိရစ္ဆာန် အစာအစာတောင့် စက်ရုံ လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဧရာဝတီ ရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.) တည်ထောင်၍ ငါး၊ ပုစွန် ပြုပြင်အေးခဲသည့် တန် (၇၅၀)ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့် တိရစ္ဆာန် အစာအစာတောင့်စက်ရုံလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၃-၈-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၈/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၄၅၄.၃၀) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ်(၃၅.၀၀)သန်း၊ အဆောက်အဦတန်ဖိုး ကျပ်(၃၇၅.၀၀)သန်း၊ ပရိဘောဂတန်ဖိုးကျပ်(၁၆.၃၃)သန်း၊ စက်ပစ္စည်း တန်ဖိုး ကျပ် (၂၇.၉၇)သန်း { အမေရိကန်ဒေါ်လာ(၀.၄၉၅)သန်း အပါအဝင်} ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်ပမှ ဝယ်ယူတင်သွင်းရာတွင် ယုဇန ကုမ္ပဏီ လီမိတက်၏ နိုင်ငံခြားငွေဖြင့် ဝယ်ယူ မည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် ပုသိမ်ခရိုင် အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနမှ ကမကထပြုသူ ဦးဌေးမြင့် နှင့် ဒါရိုက်တာအဖွဲ့ဝင် ဦးဝင်းမြင့်တို့ အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ဧရာဝတီကိုင်း၊ ပုသိမ်ခရိုင်၊ အမှတ်(၁)ရပ်ကွက်၊ စဉ့်အိုးဘိုမြောက် ရန်ကင်းတောင်လမ်း၊ အကွက်အမှတ် (၄)၊ ဦးပိုင်အမှတ် ၁၊ ၂၊ ၁-ဃ၊ ၆-ခ၊ ၂၉-ဃ နှင့် ၁-ခ ရှိ မြေ (၈.၃၆၁)ဧက (၃၃၈၃၅.၈၀ စတုရန်းမီတာ) ပေါ်တွင် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ Prawn & Fish (Fillets) ကို ပြည်ပသို့ (၁၀၀) ရာခိုင်နှုန်းနှင့် Fishpallet နှင့် Byproducts ကို ပြည်တွင်းတွင် (၁၀၀) ရာခိုင်နှုန်း ရောင်းချသွားမည် ဖြစ်ပါသည်။ ရေခဲစက်ရုံမှ ထွက်ရှိသော ရေခဲများကို ရောင်းချမည် မဟုတ်ဘဲ လုပ်ငန်းတွင် ပြန်လည်အသုံးပြုရန်အတွက်သာ

ထုတ်လုပ်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (မက်ထရစ်တန်) | ပြည်ပရောင်း (US$/MT) | ပြည်တွင်းရောင်း (ကျပ်/မ–တန်) |
| --- | --- | --- | --- | --- |
| ၁။ | Fishpellet | ၁၃၂၀၀ | – | ၁၅၉၅၀၀ |
| ၂။ | By products | ၉၉၀ | – | ၆၁၂၀၀ |
| ၃။ | Prawn | ၈၂၅ | ၅၁၇၀ | – |
| ၄။ | Fish (Fillets) | ၃၃၀ | ၁၆၀၀ | – |

၅။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | အမေရိကန်ဒေါ်လာ (သန်း) |
| --- | --- | --- |
| (က) | ဝင်ငွေ | ၄.၇၉ |
| (ခ) | အသုံးစရိတ် | ၁.၁၂ |
| (ဂ) | အသားတင်အမြတ် | ၃.၆၇ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | | |
| --- | --- | --- | --- |
| (က) | ဝင်ငွေခွန် | အမေရိကန်ဒေါ်လာ | ၀.၆၅ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၄၈ သန်း |
| | | ကျပ် | ၁၀၀.၂၆ သန်း |

၇။ လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၁၁၉၆)ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ပညာရှင်(၄)ဦးကို ခန့်ထားဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာနသို့ သဘောထား တောင်းခံရာ တည်ဆောက်မည့် စက်ရုံများတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအစဉ်အရ ဆောင်ရွက်မည့် Waste Water Treatment System အစီအမံများ စနစ်ကျမှုရှိခြင်း၊ ပြည်စုံညီညွတ်မှုရှိခြင်း၊ ရေဆိုး၊ အနံ့ဆိုးများ မထွက်ရှိနိုင်သည့်အတွက် လေထုညစ်ညမ်းမှု မရှိခြင်း တို့ကြောင့် ကန့်ကွက်ရန် မရှိပါကြောင်း၊ ခွင့်ပြုဆောင်ရွက် စေသင့်ပါကြောင်း ပြန်ကြားလာပါသည်။

၉။ အဆိုပါ လုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ လုပ်ငန်းအသစ်နှင့် စက်ပစ္စည်းအသစ်ဖြစ်ကြောင်း၊ ပြည်ပသို့ တင်ပို့ရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိများ ပြုထားပါသည်။

၁၀။ ကုမ္ပဏီမှမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့်အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၁။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ရောဝတီရေ လုပ်ငန်း လီမိတက် တည်ထောင်၍ ငါး၊ ပုဇွန် ပြုပြင်အေးခဲသည့် တန်(၇၅၀)ဆန့်အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့် တိရစ္ဆာန် အစာအစာတောင့် စက်ရုံလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၂။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။</u>

ကုန်သွယ်မှု မူဝါဒကောင်စီ ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

<u>ကုန်သွယ်မှု မူဝါဒကောင်စီ။</u>

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ဧရာဝတီရေလုပ်ငန်း လီမိတက်<br>(Ayeyarwady Fisheries Ltd.) | ၁။ ဦးဌေးမြင့်<br>(ဥက္ကဋ္ဌ) | အမှတ်–၃၃၊ အေးရိပ်မွန်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးဝင်းမြင့်<br>(ဒါရိုက်တာ) | အမှတ်–၄၀၊ ဝါးတန်းလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဒေါ်ခင်ဌေးလင်း<br>(ဒါရိုက်တာ) | အမှတ်–၆၁၅(R)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်။ ၁ / ၂၀၀ (ည) / ၅၁၀၀/

ရက်စွဲ ။၂၀၀၂ ခုနှစ်၊ ဇွန်လ (၁၁) ရက်၊

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ (၂၂-၄-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ၇က-၁/မ-၈၀၃/၂၀၀၂ (၁၈၆-င)

၁။ ဧရာဝတီရေလုပ်ငန်းလီမိတက်သည်၊ ဧရာဝတီတိုင်း၊ ပုသိမ်ခရိုင်၊ အမှတ် (၁) ရပ်ကွက်၊ ရန်ကင်းတောင်လမ်း၊ အကွက်အမှတ် (၄)၊ စဉ်းအိုးဘိုမြောက်ပိုင်း၊ ဦးပိုင်အမှတ် (၁၊ ၂၊ ၁-ဃ၊၆-ခ နှင့် ၂၉-ဃ၊ ၁-ခ) ရှိ မြေဧရိယာ (၈.၃၆၁) ဧကတွင် ငါး/ပုဇွန်ပြုပြင်အေးခဲသည့်တန် (၇၅၀) ဆန့် အအေးခန်းစက်ရုံ၊ရေခဲစက်နှင့် တိရစ္ဆာန်အစာတောင့်စက်ရုံတည်ဆောက်၍ ငါး/ပုဇွန်ပြုပြင်အေးခဲခြင်း၊ ရေခဲစက်ရုံလုပ်ငန်းနှင့် တိရစ္ဆာန်အစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာသည့် အဆိုပြုချက်အပေါ်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်း အခန်း (၃)၊ အပိုဒ် (၁၁) ပါ ပြဋ္ဌာန်းချက်နှင့်အညီ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားအား ရည်ညွှန်းပါစာဖြင့်တောင်းခံထားပါသည်။

၂။ ဧရာဝတီရေလုပ်ငန်းလီမိတက်၏ အဆိုပြုချက်နှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီး ဌာန၏တွေ့ရှိသုံးသပ်ချက်အား အောက်ပါအတိုင်းပြန်လည်တင်ပြအပ်ပါသည်-

(က) အဆိုပြုတင်ပြသည့် ကုမ္ပဏီသည် ကုမ္ပဏီမှတ်ပုံတင် (လျှောက်ထားဆဲ) ဖြင့် တိုင်းရင်းသားပိုင် ကုမ္ပဏီတစ်ခုဖြစ်ပါသည်။ အဆိုပါကုမ္ပဏီမှ ငါး၊ ပုဇွန်ပြုပြင်အေးခဲသည့်တန် (၇၅၀) ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်ရုံနှင့် တိရစ္ဆာန်အစာတောင့် စက်ရုံတည်ဆောက်၍ တိရစ္ဆာန်အစာတောင့်ထုတ်လုပ်ခြင်း၊ ငါး၊ ပုဇွန်ကုန်ချောထုတ်လုပ်၍ ပြည်ပတင်ပို့ခြင်း လုပ်ငန်းသည်ပုဂ္ဂလိကရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကို အထောက်အကူဖြစ်စေပါသည်။ ၎င်းအပြင် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေနိုင်ခြင်း၊ လုပ်ငန်းဆိုင်ရာခေတ်မီနည်းပညာရပ်များတိုးပွားရရှိစေမည်ဖြစ်ခြင်းတို့ကြောင့်ကုမ္ပဏီ၏ စက်ရုံထူထောင်လိုခြင်းကို အားပေးသင့်ပါသည်။

(ခ) နိုင်ငံတော်၏ ရေထွက်ပစ္စည်းအရည်အသွေး မြှင့်တင်ရေးအတွက် လိုအပ်လျက်ရှိသော အအေးခန်းစက်ရုံတည်ဆောက်ရန်ဖြစ်သဖြင့်၊ နိုင်ငံထွက်ရေထွက်ပစ္စည်းများအား ကမ္ဘာ့ရောင်းတမ်းဝင်ရေထွက်ပစ္စည်းများအဖြစ် ပြုပြင်ထုပ်ပိုး၍ ပြည်ပသို့တန်ဖိုးမြှင့်ပစ္စည်းတင်ပို့ရောင်းချနိုင်မည်ဖြစ်ပါသည်။ ထိုသို့ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ ပို့ကုန်ပမာဏနှင့် တန်ဖိုးပါတိုးတက်ရရှိလာစေမည်ဖြစ်ပါသည်။ ၎င်းအပြင် ပြည်ပတင်ပို့ရောင်းချခြင်းမှ ရရှိသည့်နိုင်ငံခြားငွေ (Export Proceeds) အပေါ်တွင် နိုင်ငံတော်မှ ကောက်ခံရယူသည့် အခွန်အခရရှိမည်ဖြစ်ပါသောကြောင့် နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေတိုးတက်ရရှိလာမည်ဖြစ်ပါသည်။

(ဂ) တည်ဆောက်မည့် အအေးခန်းစက်ရုံသည် အမိုးနီးယားဓာတ်ငွေ့သုံး နိုင်ငံတကာအဆင့်ရှိစက်ရုံဖြစ်ပြီး၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုကိုကာကွယ်ရန်အတွက် ရေဆိုးပြန်လည်သန့်စင်စက်တပ်ဆင်အသုံးပြုမည်ဟု ဖော်ပြထားသည်ကိုတွေ့ရှိရပါ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူနှင့်ကိုက်ညီမှု ရှိပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် ပြည်ပဈေးကွက်ရရှိပြီးဖြစ်၍ ထုတ်လုပ်သည့်အရည်အသွေးမီ ငါး၊ ပုစွန်များကို ရာနှုန်းပြည့် ပြည်ပသို့တင်ပို့ရောင်းချမည်ဖြစ်ရာ၊ ပြည်ပပို့ကုန်စံချိန်စံညွှန်းမီစေရန်အတွက်၊ ငါးလုပ်ငန်းဦးစီးဌာန၏ အရည်အသွေးဆိုင်ရာ စစ်ဆေးမှုကို ခံယူရန်လိုအပ်ပါသည်။

(င) အအေးခန်းစက်ရုံတည်ဆောက်ပြီး၊ ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် ငါးဝယ်ယူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ပတ်သက်၍တည်ဆဲငါးလုပ်ငန်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) တည်ဆောက်မည့်စက်ရုံ မြေနေရာသည် နိုင်ငံတော်မှ ခွင့်ပြုနိုင်မည့်မြေနေရာဖြစ်ရန်၊ EU Standard နှင့်အညီ၊ စက်ရုံတည်ဆောက်နိုင်သည့် မြေနေရာအကျယ်အဝန်း၊ အနည်းဆုံး (၂) ဧကရှိရန်နှင့် လူနေရပ်ကွက်မဖြစ်ရန် လိုအပ်ပါသည်။

(ဆ) နိုင်ငံတော် အအေးခန်းစက်ရုံနှင့် ပုဂ္ဂလိကပိုင်အအေးခန်းစက်ရုံတို့၏ စွမ်းအားသည် လိုအပ်ချက်ထက်များစွာ လျော့နည်းနေသဖြင့် ဒေသတွင်း ခေတ်မီစက်ရုံသစ်ဦးရေတိုးတက်ရန်လိုအပ်လျက်ရှိပါသည်။

(ဇ) ဒေသခံပြည်သူလူထုအတွက် အလုပ်အကိုင်အခွင့်အလမ်းများပိုမိုတိုးတက်ရရှိစေခြင်းဖြင့် ဒေသတွင်း တည်ငြိမ်အေးချမ်းမှုရရှိကာ၊ နိုင်ငံတော်၏ ဦးတည်ချက် (၄) ရပ် အနက် "နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး" ဟူသော ဦးတည်ချက်တစ်ရပ်ကို တစ်နည်းတစ်ဖုံအထောက်အကူပြုရာရောက်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်။ ၁/၂၀၀(ည)/၅၁၀၀/ ၉၁၀
ရက်စွဲ ။ ၂၀၀၂ ခုနှစ်၊ ဩဂုတ်လ ၅ ရက်

အကြောင်းအရာ။ **ဧရာဝတီရေလုပ်ငန်းလီမိတက်၏ တန်(၅၀)ဆန့် ငါး/ပုစွန် ပြုပြင်အေးခဲသည့်အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့်အစာတောင့်စက်ရုံလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ (၁) မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏(၁၁-၆-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ၁/၂၀၀(ည)/၅၁၀၀/၇၀၂
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၁-၇-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၈၀၃/၂၀၀၂(၁၇၃၇)

၁။ ဧရာဝတီရေလုပ်ငန်းလီမိတက်မှ ငါး/ပုစွန်ပြုပြင်အေးခဲသည့်တန်(၅၀)ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့်တိရစ္ဆာန်အစာတောင့်စက်ရုံတည်ဆောက်၍လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံးမှ သဘောထားတောင်းခံခဲ့ရာ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှ ရည်ညွှန်းစာ(၁)ဖြင့်ပြန်လည်တင်ပြပြီးဖြစ်ပါသည်။

၂။ ဧရာဝတီရေလုပ်ငန်းလီမိတက်မှစက်ရုံတည်ဆောက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၀-၆-၂၀၀၂)ရက်နေ့ကျင်းပသော (၂၀/၂၀၀၂)ကြိမ်မြောက်အစည်းအဝေးမှ ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေးအစီအစဉ်အပေါ်၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏သဘောထားပြန်ကြားပေးပါရန်နှင့် Waste Water Treatment Plant ကိုစက်ရုံ၏ Master Plan (Layout) တွင်ထည့်သွင်းရေးဆွဲ၍ပြန်လည်တင်ပြရန်ဆုံးဖြတ်ခဲ့သည့်အတွက်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းစာ(၂)ဖြင့်သဘောထားထပ်မံတောင်းခံထားပါသည်။

၂/-

၃။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနအနေနှင့် ဇရာဝတီရေလုပ်ငန်းလီမိတက်၏ အအေးခန်း စက်ရုံ၊ ရေခဲစက်ရုံနှင့် တိရစ္ဆာန်အစာတောင့်စက်ရုံတည်ဆောက်ခွင့်ပြုပါရန် တင်ပြလာသည့် အဆိုပြုချက် အပေါ် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ခွင့်ပြုဆောင်ရွက်စေသင့်ပါကြောင်း ထပ်ဆင့်ထောက်ခံတင်ပြ အပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)

(ကျော်လွင်၊ညွှန်ကြားရေးမှူးချုပ်)

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး</u>

မိတ္တူကို–

(၁)ရုံးအဖွဲ့မှူး၊မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန

(၂)ညွှန်ကြားရေးမှူးချုပ်၊မွေးမြူရေးနှင့်ရေလုပ်ငန်းညွှန်ကြားမှုဦးစီးဌာန

(၃)ညွှန်ကြားရေးမှူးချုပ်၊ငါးလုပ်ငန်းဦးစီးဌာန

(၄)အုပ်ချုပ်မှုဒါရိုက်တာ၊ ဇရာဝတီရေလုပ်ငန်းလီမိတက်

R-၃၂၄၇
၅/၈

တိကျမှန်မြန်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁/၂၀၀(ည)/၅၁၀၀/ ၉၁၀
ရက်စွဲ ၊ ၂၀၀၂ ခုနှစ်၊ ဩဂုတ်လ ၅ ရက်

အကြောင်းအရာ။ <u>ရေဝတီရေလုပ်ငန်းလီမိတက်၏တန် (၃၅၀) ဆန့်ငါး/ပုစွန်ပြုပြင်အေးခဲသည့်အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့်အပါအဝင် စက်ရုံလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ</u>

ရည်ညွှန်းချက်။ (၁) မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ (၁၁-၆-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ၁/၂၀၀(ည)/၅၁၀၀/၇၀၂
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၇-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၈၀၃/၂၀၀၂(၁၇၃၇)

၁။ ရေဝတီရေလုပ်ငန်းလီမိတက်မှ ငါး/ပုစွန်ပြုပြင်အေးခဲသည့်တန် (၃၅၀) ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့်တိရစ္ဆာန်အစာတောင့်စက်ရုံတည်ဆောက်၍လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံးမှ သဘောထားတောင်းခံခဲ့ရာ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှ ရည်ညွှန်းစာ (၁) ဖြင့်ပြန်လည်တင်ပြပြီးဖြစ်ပါသည်။

၂။ ရေဝတီရေလုပ်ငန်းလီမိတက်မှစက်ရုံတည်ဆောက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၈-၆-၂၀၀၂) ရက်နေ့ကျင်းပသော (၂၀/၂၀၀၂) ကြိမ်မြောက်အစည်းအဝေးမှ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေးအစီအစဉ်အပေါ်၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏သဘောထားပြန်ကြားပေးပါရန်နှင့် Waste Water Treatment Plant ကိုစက်ရုံ၏ Master Plan (Layout) တွင်ထည့်သွင်းရေးဆွဲ၍ပြန်လည်တင်ပြရန်ဆုံးဖြတ်ခဲ့သည့်အတွက်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း (၂) ဖြင့်သဘောထားထပ်မံတောင်းခံထားပါသည်။

၂/-

- Location map and plan
- proposed

၃။ ဧရာဝတီ ရေလုပ်ငန်း လီမိတက်မှ တည်ဆောက်မည့်စက်ရုံများ တွင် ပတ်ဝန်းကျင်ညစ်ညမ်း မှုထိန်း သိမ်း ကာကွယ် ရေး အစီအစဉ်အရ၊ ဆောင်ရွက်မည့် Waste Water Treatment System အစီအမံများ အား စီစစ်ရာတွင် စံနစ်ကျမှုရှိခြင်း ၊ ပြည့်စုံညီညွတ်မှုရှိခြင်း ၊ ရေဆိုး ၊ အနံ့ဆိုး များ မထွက်ရှိနိုင်သည့်အတွက်၊ လေထုညစ်ညမ်းမှု မရှိခြင်း တို့ကြောင့် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိ ပါကြောင်း နှင့် ခွင့်ပြုဆောင်ရွက် စေသင့်ပါကြောင်း တစ်ဆင့် ထောက်ခံတင်ပြအပ်ပါသည်။

၄။ စက်ရုံ၏ Master Plan (Lay-out) တွင် Waste Water Treatment Plant အားပူး တွဲ ပါအတိုင်း ထည့်သွင်း ရေး ဆွဲထား ပါကြောင်း ပြန်လည်တင်ပြအ စီရင်ခံအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
( ကျော်ဆွေ၊ ညွှန်ကြား ရေး မှူး ချုပ် )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး</u>

မိတ္တူကို -

၁။ ညွှန်ကြား ရေး မှူး ချုပ်
ငါး လုပ်ငန်း ဦး စီး ဌာန
၂။ ဧရာဝတီ ရေလုပ်ငန်း လီမိတက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်။ ၁ / ၂၀၀ (ည) / ၅၁၀၀/

ရက်စွဲ ။၂၀၀၂ ခုနှစ်၊ ဇွန်လ (၁၁) ရက်၊

အကြောင်းအရာ။ **<u>သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း</u>**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ (၂၂-၄-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ၇က-၁/မ-၈၀၃/၂၀၀၂ (၁၈၆-င)

၁။ ဧရာဝတီရေလုပ်ငန်းလီမိတက်သည်၊ ဧရာဝတီတိုင်း၊ ပုသိမ်ခရိုင်၊ အမှတ် (၁) ရပ်ကွက်၊ ရန်ကင်းတောင်လမ်း၊ အကွက်အမှတ် (၄)၊ စဉ်းအိုးဘိုမြောက်ပိုင်း၊ ဦးပိုင်အမှတ် (၁၊ ၂၊ ၁-ဃ၊၆-ခ နှင့် ၂၆-ဃ၊ ၁-ခ) ရှိ မြေဧရိယာ (၈.၃၆၁) ဧကတွင် ငါး/ပုစွန်ပြုပြင်အေးခဲသည့်တန် (၇၅၀) ဆန့် အအေးခန်းစက်ရုံ၊ရေခဲစက်နှင့် တိရစ္ဆာန်အစာတောင့်စက်ရုံတည်ဆောက်၍ ငါး/ပုစွန်ပြုပြင်အေးခဲခြင်း၊ ရေခဲစက်ရုံလုပ်ငန်းနှင့် တိရစ္ဆာန်အစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာသည့် အဆိုပြုချက်အပေါ်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်း အခန်း (၃)၊ အပိုဒ် (၁၁) ပါ ပြဋ္ဌာန်းချက်နှင့်အညီ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားအား ရည်ညွှန်းပါစာဖြင့်တောင်းခံထားပါသည်။

၂။ ဧရာဝတီရေလုပ်ငန်းလီမိတက်၏ အဆိုပြုချက်နှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏တွေ့ရှိသုံးသပ်ချက်အား အောက်ပါအတိုင်းပြန်လည်တင်ပြအပ်ပါသည်-

(က) အဆိုပြုတင်ပြသည့် ကုမ္ပဏီသည် ကုမ္ပဏီမှတ်ပုံတင် (လျှောက်ထားဆဲ) ဖြင့် တိုင်းရင်းသားပိုင်ကုမ္ပဏီတစ်ခုဖြစ်ပါသည်။ အဆိုပါကုမ္ပဏီမှ ငါး၊ ပုစွန်ပြုပြင်အေးခဲသည့်တန် (၇၅၀) ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်ရုံနှင့် တိရစ္ဆာန်အစာတောင့် စက်ရုံတည်ဆောက်၍ တိရစ္ဆာန်အစာတောင့်ထုတ်လုပ်ခြင်း၊ ငါး၊ ပုစွန်ကုန်ချောထုတ်လုပ်၍ ပြည်ပတင်ပို့ခြင်းလုပ်ငန်းသည်ပုဂ္ဂလိကရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကို အထောက်အကူဖြစ်စေပါသည်။ ၎င်းအပြင် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေနိုင်ခြင်း၊ လုပ်ငန်းဆိုင်ရာခေတ်မီနည်းပညာရပ်များတိုးပွားရရှိစေမည်ဖြစ်ခြင်းတို့ကြောင့်ကုမ္ပဏီ၏ စက်ရုံထူထောင်လိုခြင်းကို အားပေးသင့်ပါသည်။

(ခ) နိုင်ငံတော်၏ ရေထွက်ပစ္စည်းအရည်အသွေး မြှင့်တင်ရေးအတွက် လိုအပ်လျက်ရှိသော အအေးခန်းစက်ရုံတည်ဆောက်ရန်ဖြစ်သဖြင့်၊ နိုင်ငံထွက်ရေထွက်ပစ္စည်းများအား ကမ္ဘာ့ရောင်းတမ်းဝင်ရေထွက်ပစ္စည်းများအဖြစ် ပြုပြင်ထုပ်ပိုး၍ ပြည်ပသို့တန်ဖိုးမြှင့်ပစ္စည်းတင်ပို့ရောင်းချနိုင်မည်ဖြစ်ပါသည်။ ထိုသို့ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ ပို့ကုန်ပမာဏနှင့် တန်ဖိုးပါတိုးတက်ရရှိလာစေမည်ဖြစ်ပါသည်။ ၎င်းအပြင် ပြည်ပတင်ပို့ရောင်းချခြင်းမှ ရရှိသည့်နိုင်ငံခြားငွေ (Export Proceeds) အပေါ်တွင် နိုင်ငံတော်မှ ကောက်ခံရယူသည့် အခွန်အခရရှိမည်ဖြစ်ပါသောကြောင့် နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေတိုးတက်ရရှိလာမည်ဖြစ်ပါသည်။

(ဂ) တည်ဆောက်မည့် အအေးခန်းစက်ရုံသည် အမိုးနီးယားဓာတ်ငွေ့သုံး နိုင်ငံတကာအဆင့်ရှိ စက်ရုံဖြစ်ပြီး၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုကိုကာကွယ်ရန်အတွက် ရေဆိုးပြန်လည်သန့်စင်စက် တပ်ဆင်အသုံးပြုမည်ဟု ဖော်ပြထားသည်ကိုတွေ့ရှိရပါ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူနှင့် ကိုက်ညီမှု ရှိပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် ပြည်ပဈေးကွက်ရရှိပြီးဖြစ်၍ ထုတ်လုပ်သည့်အရည်အသွေးမီ ငါး၊ ပုဇွန်များကို ရာနှုန်းပြည့် ပြည်ပသို့တင်ပို့ရောင်းချမည်ဖြစ်ရာ၊ ပြည်ပပို့ကုန်စံချိန်စံညွှန်း စိစစ်ရန်အတွက်၊ ငါးလုပ်ငန်းဦးစီးဌာန၏ အရည်အသွေးဆိုင်ရာ စစ်ဆေးမှုကို ခံယူရန် လိုအပ်ပါသည်။

(င) အအေးခန်းစက်ရုံတည်ဆောက်ပြီး၊ ငါး/ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် ငါးဝယ်ယူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ပတ်သက်၍တည်ဆဲငါးလုပ်ငန်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) တည်ဆောက်မည့်စက်ရုံ မြေနေရာသည် နိုင်ငံတော်မှ ခွင့်ပြုနိုင်မည့်မြေနေရာဖြစ်ရန်၊ EU Standard နှင့်အညီ၊ စက်ရုံတည်ဆောက်နိုင်သည့် မြေနေရာအကျယ်အဝန်း၊ အနည်းဆုံး (၂) ဧကရှိရန်နှင့် လူနေရပ်ကွက်မဖြစ်ရန် လိုအပ်ပါသည်။

(ဆ) နိုင်ငံတော် အအေးခန်းစက်ရုံနှင့် ပုဂ္ဂလိကပိုင်အအေးခန်းစက်ရုံတို့၏ စွမ်းအားသည် လိုအပ်ချက်ထက်များစွာ လျော့နည်းနေသဖြင့် ဒေသတွင်း ခေတ်မီစက်ရုံသစ်ဦးရေ တိုးတက်ရန်လိုအပ်လျက်ရှိပါသည်။

(ဇ) ဒေသခံပြည်သူလူထုအတွက် အလုပ်အကိုင်အခွင့်အလမ်းများပိုမိုတိုးတက်ရရှိစေခြင်းဖြင့် ဒေသတွင်း တည်ငြိမ်အေးချမ်းမှုရရှိကာ၊ နိုင်ငံတော်၏ ဦးတည်ချက် (၄) ရပ် အနက် "နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး" ဟူသော ဦးတည်ချက်တစ်ရပ်ကို တစ်နည်းတစ်ဖုံအထောက်အကူပြုရာရောက်ပါသည်။